


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၁၅ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးစိုးရီ

(ခ) အဘ အမည် ဦးထွန်းရင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၈/မထန (နိုင်) ၀၀၉၁၂၂

(ဃ) နေရပ်လိပ်စာ အမှတ် (၉)ဂျီ၊ မိုးကောင်းလမ်း၊ မြကန်သာဥယျာဉ်အိမ်ရာ၊ အုတ်ကျင်း၊လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း သံတော်မြတ် ကုမ္ပဏီ လီမိတက် ( Than Taw Myat Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား တစ်နေ့တန်(၂၀၀၀)ကျ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) တောင်တော်ကွင်းဒေသ၊သံတော်မြတ်တောင် (တောင်ပိုင်း)၊ကျောက်ဆည်စက်မှုနယ်မြေ၊ကျောက်ဆည်မြို့နယ်၊ကျောက်ဆည်ခရိုင်၊မန္တလေးတိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၄၃၀၃၄.၇၄ (သန်း)(အမေရိကန်ဒေါ်လာ(၄၀.၁၃)သန်းအပါအဝင် စုစုပေါင်း ကျပ် လေးသောင်း၊သုံးထောင်၊သုံးဆယ့်လေးသန်းနှင့် ခုနစ်သိန်း၊လေးသောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၅၃/၂၀၁၁(မနသ)
ရန်ကုန်မြို့၊ ၁၃၇၃ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁၃ ရက်
(၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၈ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော သံတော်မြတ် ကုမ္ပဏီ လီမိတက် (Than Taw Myat Co., Ltd.)သည် ကုမ္ပဏီ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မန္တလေးတိုင်း ဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ်၊ ကျောက်ဆည်စက်မှုနယ်မြေ၊ သံတော်မြတ်တောင်(တောင်ပိုင်း)၊ တောင်တော်ကွင်းဒေသ ရှိ စုစုပေါင်း မြေ (၄၀၈.၉၈)ဧက တွင် တစ်နေ့ တန်(၂၀၀၀)ကျ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အမှတ်(၁)စက်မှု ဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် အဆိုပြု တင်ပြချက်အား (၂-၁၁-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ သဘောတူ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် သံတော်မြတ် ကုမ္ပဏီ လီမိတက် (Than Taw Myat Co., Ltd.) အား တန်(၂၀၀၀)ကျ ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၈၁၅/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ သံတော်မြတ် ကုမ္ပဏီလီမိတက် (Than Taw Myat Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေ တိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး

သည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှတင်သွင်း သည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ သံတော်မြတ် ကုမ္ပဏီလီမိတက် (Than Taw Myat Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ သံတော်မြတ် ကုမ္ပဏီလီမိတက် (Than Taw Myat Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ သံတော်မြတ် ကုမ္ပဏီလီမိတက် (Than Taw Myat Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စ နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၈။ သံတော်မြတ် ကုမ္ပဏီ လီမိတက် (Than Taw Myat Co., Ltd.) သည် ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးများ၏ စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၉။ သံတော်မြတ် ကုမ္ပဏီ လီမိတက် (Than Taw Myat Co., Ltd.)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် မတည်ငွေရင်း ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ(ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့်တယ်လီဖုန်းနံပါတ်) တို့ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင် သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၁။ သံတော်မြတ် ကုမ္ပဏီလီမိတက် (Than Taw Myat Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၂။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရကာ-၆(က) /မ- ၁၁၂၇/၂၀၁၁( ၁၂၇၃၅ဆ)
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၈ ရက်။

<u>ဖြန့်ဝေခြင်း-</u>

၁။ သမ္မတဦးစီးရုံး။
၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။
၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။
၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။
၅။ ပြည်ထဲရေးဝန်ကြီးဌာန။
၆။ သတ္တုတွင်းဝန်ကြီးဌာန။
၇။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၈။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၂။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၁၆။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ မန္တလေးမြို့။

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ကျွေထည်မြေထည် လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)သတ္တုတွင်းလုပ်ငန်း။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

~~၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။~~

၂၉။ အုပ်ချုပ်မှုဒါရိုက်တာ၊ သံတော်မြတ် ကုမ္ပဏီ လီမိတက် (Than Taw Myat Co., Ltd.)။